ရက်စွဲ။ ၂၂-၁-၂၀၂၀

CNTIC VPower YG2 Limited မှ တင်ပြသည့် အဆိုပြုလွှာနှင့် စပ်လျဉ်း၍ လုပ်ငန်းဆောင်ရွက်မှုမှတ်တမ်း

| စဉ် | ဆောင်ရွက်သည့်အကြောင်းအရာ | ဆောင်ရွက်သည့် ရက်စွဲ | အကြောင်းပြန်ကြားသည့် ရက်စွဲ/ကုမ္ပဏီမှ တင်ပြသည့် ရက်စွဲ | မှတ်ချက် |
| --- | --- | --- | --- | --- |
| ၁ | စုံစမ်းမေးမြန်းခြင်းလျှောက်ထားလွှာ တင်ပြခြင်း | - | - | - |
| ၂ | စုံစမ်းမေးမြန်းခြင်းလျှောက်ထားလွှာ အပေါ်အကြောင်းပြန်ကြားခြင်း | - | - | - |
| ၃ | အဆိုပြုချက်အား လျှပ်စစ်နှင့် စွမ်းအင် ဝန်ကြီးဌာနမှ တင်ပြလာခြင်း | ၁၃-၁၂-၂၀၁၉ | | |
| ၄ | အဆိုပြုချက်အား ကုမ္ပဏီမှ တင်ပြလာ ခြင်း | - | ၁၇-၁၂-၂၀၁၉ | |
| ၅ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်း အဝေးသို့ တင်ပြခြင်း | ၄၄/၂၀၁၉ (၂၃-၁၂-၂၀၁၉) | | |
| ၆ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်း အဝေးဆုံးဖြတ်ချက်အား အကြောင်း ကြားခြင်း | ၉-၁-၂၀၂၀ | | |
| ၇ | မြန်မာစီးပွားရေးဦးပိုင်လီမိတက်သို့ သဘောထားမှတ်ချက်တောင်းခံခြင်း | ၂၇-၁၂-၂၀၁၉ | ၂၀-၁-၂၀၂၀ | |
| ၈ | ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့သို့ သဘောထားမှတ်ချက်တောင်းခံခြင်း | ၂-၁-၂၀၂၀ | - | |
| ၉ | အဆိုပြုချက်အား ကော်မရှင် အစည်းအဝေသို့ တင်ပြခြင်း | ၂/၂၀၂၀ (၂၄-၁-၂၀၂၀) | | |
| | **စုစုပေါင်းကြာမြင့်ရက်** | **၃၁ ရက်** | | |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ မရက- ၅(လ)/ခ-၀၁၂/၂၀၂၀( ၀၃၅ )
ရက်စွဲ၊ ၂၀၂၀ ပြည့်နှစ် ဇန်နဝါရီလ ၂၂ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**
**တင်ပြသည့် အမှာစာ**

အကြောင်းအရာ။ **ရခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် CNTIC VPower YG2 Limited တည်ထောင်ပြီး IPP (BOO) စနစ်ဖြင့် ၃၅၀ မဂ္ဂါဝပ် LNG စွမ်းအင်သုံး ဓာတ်အားပေးစက်ရုံတည်ဆောက်၍ လျှပ်စစ် ဓာတ်အား ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြလာခြင်းကိစ္စ**

၁။ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ဟောင်ကောင်မှ CV Myanmar YG2 Limited သည် မြန်မာနိုင်ငံတွင် CNTIC VPower YG2 Limited တည်ထောင်ပြီး မြေကွက်အမှတ်-၁၄၊ သီလဝါဆိပ်ကမ်း၊ သန်လျင်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးတွင် IPP (BOO) စနစ်ဖြင့် ၃၅၀ မဂ္ဂါဝပ် LNG စွမ်းအင်သုံး ဓာတ်အားပေးစက်ရုံတည်ဆောက်၍ လျှပ်စစ်ဓာတ်အား ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာနမှတစ်ဆင့် အဆိုပြုချက် တင်ပြလာပါသည်။ **နောက်ဆက်တွဲ-က**

၂။ အဆိုပြုချက်နှင့်အတူ လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန၊ လျှပ်စစ်ဓာတ်အား ထုတ်လုပ်ရေးလုပ်ငန်းနှင့် တင်ဒါအောင်မြင်သော Consortium of CNTIC and VPower ကုမ္ပဏီတို့ အကြား ၂၀၁၉ ခုနှစ် စက်တင်ဘာလ ၆ ရက်နေ့ ရက်စွဲဖြင့် လက်မှတ်ရေးထိုးထား သော Letter of Acceptance- LOA နှင့် လျှပ်စစ်ဓာတ်အားဝယ်ယူရေး စာချုပ် (မူကြမ်း)တို့အား ပူးတွဲတင်ပြထားပါသည်။

၃။ အဆိုပြုချက်နှင့်အတူ မူလမြေပိုင်ရှင် မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်နှင့် Myanmar Business Consultant Group Limited တို့အကြား ချုပ်ဆိုမည့် မြေငှားရမ်းခြင်းသဘောတူစာချုပ်(မူကြမ်း)၊ CNTIC VPower YG2 Limited နှင့် Myanmar Business Consultant Group Limited တို့အကြား မြေအသုံးပြုခွင့်အတွက်ထပ်ဆင့်ချုပ်ဆိုထားသည့် Gas Terminal Development and Operation Agreement၊ နှင့် မြေဆိုင်ရာ အထောက်အထားများအားတင်ပြထားပါသည်။

၄။ လုပ်ငန်းစီမံကိန်း သက်တမ်းကာလမှာ စီးပွားဖြစ် လုပ်ငန်းစတင်လည်ပတ်သည့် နေ့မှစ၍ လပေါင်း ၆၀ ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ ၁ နှစ် ဖြစ်ပါသည်။

၅။ အဆိုပြုလုပ်ငန်း၏ စုစုပေါင်း မတည်ငွေရင်းပမာဏမှာ အမေရိကန်ဒေါ်လာ ၂၉၇.၃၉၀ သန်းဖြစ်ပြီး ရင်းနှီးမြှုပ်နှံမှုပုံစံမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| | စုစုပေါင်း US$ သန်း |
|---|---|
| ငွေသား | ၉.၉၅၀ |
| စက်ပစ္စည်းတန်ဖိုး | ၂၈၇.၄၄၀ |
| **စုစုပေါင်း** | ၂၉၇.၃၉၀ |

၆။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းဝန်ထမ်း ၁၅၉ ဦး၊ ပြည်ပဝန်ထမ်း ၄၉ ဦး ခန့်ထားမည်ဖြစ်ပါသည်။ ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ US$ ၁၅၉ နှင့် အမြင့်ဆုံးလစာမှာ US$ ၃၄၈ ဖြစ်ပါသည်။ ပြည်ပဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ US$ ၂,၂၅၀ နှင့် အမြင့်ဆုံးလစာမှာ US$ ၂,၇၃၀ ဖြစ်ပါသည်။

၇။ လုပ်ငန်းမှ ထွက်ရှိသော လျှပ်စစ်ဓာတ်အားကို ပြည်တွင်းတွင် ၁၀၀% ရောင်းချမည်ဖြစ်ပါသည်။ လျှပ်စစ်ဓာတ်အား (ပထမနှစ်) တွင် ကီလိုဝပ်နာရီသန်းပေါင်း ၁,၅၃၇.၂၀၀ ထုတ်လုပ်မည် ဖြစ်ပြီး ဓာတ်အားခ တစ်ယူနစ်လျှင် US$ ၀.၁၂ နှုန်းဖြင့် ရောင်းချမည်ဖြစ်ပါသည်။

၈။ အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့သို့ သဘောထားမှတ်ချက် တောင်းခံထားဆဲဖြစ်ပြီး၊ မြေပိုင်ရှင် မြန်မာ့စီးပွားရေးဦးပိုင် အများနှင့်သက်ဆိုင်သော ကုမ္ပဏီလီမိတက် အနေဖြင့် အငှားချထားခြင်း ခံရသည့် MBCG အနေဖြင့် သဘောတူညီချက်၏ အပိုဒ် (၁၆)ပါ စည်းကမ်းချက်များအား လိုက်နာဆောင်ရွက်ပါက မြေပိုင်ရှင် အနေဖြင့် ကန့်ကွက်ရန် မရှိပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ-ခ**

၉။ လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန၊ လျှပ်စစ်ဓာတ်အား ထုတ်လုပ်ရေးလုပ်ငန်းနှင့် Consortium of China National Technical Import & Export Corporation, VPower Group Holdings Ltd., VPower Holdings Limited တို့ကြား ချုပ်ဆိုမည့် လျှပ်စစ်ဓာတ်အား ဝယ်ယူရေးစာချုပ် (မူကြမ်း) အားတင်ပြထားပါသည်။ အဆိုပါ စာချုပ် (မူကြမ်း)ပါ အဓိကအချက်အလက်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

(က) လျှပ်စစ်ဓာတ်အား ထုတ်လုပ်ရေးလုပ်ငန်းသည် ဓာတ်အားခွဲရုံ၊ floating storage unit၊ ဓာတ်အားလိုင်း၊ ဓာတ်ငွေ့ပိုက်လိုင်းစနစ်များတည်ဆောက်ရန်အတွက် လိုအပ်သည့်မြေနေရာရရှိရန်ကူညီပေးရမည်ဖြစ်သည်။ **အပိုဒ် ၃.က အပိုဒ်ခွဲ (၁, ၂)**

(ခ) လျှပ်စစ်ဓာတ်အားပေးစက်ရုံ ငှားရမ်းသည့်သက်တမ်းမှာ စာချုပ်လက်မှတ်ရေးထိုးသည့်နေ့မှစ၍ အသက်ဝင်မည်ဖြစ်ပြီး စီးပွားဖြစ်လုပ်ငန်း စတင်လည်ပတ်သည့်နေ့မှစ၍ ဖျက်သိမ်းခြင်း သို့မဟုတ် တိုးချဲ့ခြင်းမဆောင်ရွက်ပါကလပေါင်း ၆၀ ဖြစ်သည်။ နှစ်ဦးနှစ်ဖက် သဘောတူညီမှုဖြင့် သက်တမ်းတိုးမြှင့်နိုင်သည်။ **အပိုဒ်-၆(က၊ ခ)**

၁၀။ ငွေကြေးအထောက်အထားအဖြစ် VPower Group International Holdings Limited မှ Standard Chartered Central Branch (Hong Kong) ၌ ၂၇-၉-၂၀၁၉ ရက်စွဲဖြင့် ဟောင်ကောင်ဒေါ်လာ ၆၆၃,၈၂၅.၀၄ ရှိကြောင်း တင်ပြထားပါသည်။

၁၁။ အဆိုပြုလုပ်ငန်းအား ၂၀၁၉ ခုနှစ် ဒီဇင်ဘာလ ၂၃ ရက်နေ့တွင် ကျင်းပသည့် အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ (၄၄/၂၀၁၉) ကြိမ်မြောက်အစည်းအဝေးသို့ တင်ပြခဲ့ပြီးပါသည်။

**စိစစ်တင်ပြချက်**

၁၂။ တစ်ဖက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့် ဥပဒေရေးရာ ဌာနခွဲမှ ကော်မရှင် ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက်(မူကြမ်း)အား ဥပဒေနှင့်ညီညွတ်မှုရှိကြောင်း စိစစ်ပြီး ဖြစ်ပါသည်။

(ခ) ကုမ္ပဏီနှင့် ၅ နှစ်စာ ဓာတ်အားဝယ်ယူရေးစာချုပ် ချုပ်ဆိုနိုင်ရေးအတွက် သက်ဆိုင်ရာ ဌာနများသို့ စာချုပ်မူကြမ်းပေးပို့၍ သဘောထားမှတ်ချက်များတောင်းခံခဲ့ပြီး အဆိုပါ သဘောထားမှတ်ချက်များနှင့်အညီ စာချုပ်အားပြင်ဆင်နိုင်ရေးကုမ္ပဏီနှင့်ညှိနှိုင်း ဆောင်ရွက်လျက်ရှိကြောင်းနှင့် Gas Engine နှင့် ဆက်စပ်ပစ္စည်းများ အချိန်မီ တင်သွင်း နိုင်ရေး အတွက် လိုအပ်သလို ကူညီဆောင်ရွက်ပေးနိုင်ပါရန် လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာနမှ ၂၀၁၉ ခုနှစ် ဒီဇင်ဘာလ ၂၃ ရက်နေ့ ရက်စွဲပါစာဖြင့် တင်ပြထားပါသည်။

**နောက်ဆက်တွဲ-ဂ**

(ဂ) အလားတူ LNG စွမ်းအင်သုံး လျှပ်စစ်ဓာတ်အားထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းများ အနေဖြင့် CNTIC VPower YG1 Limited အား သာကေတမြို့နယ်တွင် ၄၀၀ မဂ္ဂါဝပ် ထုတ်လုပ်ခြင်းလုပ်ငန်းအား ခွင့်ပြုမိန့်အမှတ် ၂၁၀/၂၀၁၉ (၂၉-၁၁-၂၀၁၉) ဖြင့်လည်း ကောင်း၊ CNTIC VPower KY3 Limited အား ကျောက်ဖြူမြို့နယ်တွင် ၁၅၀ မဂ္ဂါဝပ် ထုတ်လုပ်ခြင်း လုပ်ငန်းအား ခွင့်ပြုမိန့်အမှတ် ၂၁၁/၂၀၁၉ (၂၉-၁၁-၂၀၁၉) ဖြင့်လည်း ကောင်း ကော်မရှင်မှ အသီးသီးခွင့်ပြုခဲ့ ပြီး ဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၃။ ရခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် CNTIC VPower YG2 Limited မှ IPP (BOO) စနစ်ဖြင့် ၃၅၀ မဂ္ဂါဝပ် LNG စွမ်းအင်သုံး ဓာတ်အားပေးစက်ရုံတည်ဆောက်၍ လျှပ်စစ်ဓာတ်အား ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စနှင့် စပ်လျဉ်း၍ ခွင့်ပြုမိန့်ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကော်မရှင်)
(သန့်စင်လွင်၊ အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ

အကြောင်းအရာ။ **ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် CNTIC VPower YG2 Limited မှ IPP (BOO) စနစ်ဖြင့် ၃၅၀ မဂ္ဂါဝပ် LNG စွမ်းအင်သုံး ဓာတ်အားပေးစက်ရုံ တည်ဆောက်၍ လျှပ်စစ်ဓာတ်အား ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - CNTIC VPower YG2 Limited |
| | ရင်းနှီးမြှုပ်နှံသူ | - Mr. Lo Siu Yuen |
| | ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဌာန် | - ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု |
| | | - CV Myanmar YG2 Limited (ဟောင်ကောင်)၁၀၀ % |
| | လုပ်ငန်းအမျိုးအစား | - IPP (BOO) စနစ်ဖြင့် ၃၅၀ မဂ္ဂါဝပ် LNG စွမ်းအင်သုံး ဓာတ်အားပေးစက်ရုံ တည်ဆောက်၍ လျှပ်စစ်ဓာတ်အား ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း |
| ၂။ | တည်နေရာ | - မြေကွက်အမှတ် ၁၄၊ သီလဝါဆိပ်ကမ်းဒေသ၊ သန်လျင်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး |
| ၃။ | မြေပိုင်ရှင် | - မြန်မာ စီးပွားရေး ဦးပိုင်အများနှင့် သက်ဆိုင်သော ကုမ္ပဏီ လီမိတက် |
| | မြေအကျယ်အဝန်း | |
| | နှစ်စဉ်မြေငှားရမ်းခ | - - |
| | မြေအသုံးပြုခွင့်သက်တမ်း | - Gas Terminal Development and Operation Agreement ပါအတိုင်းဖြစ်ပါသည်။ |
| ၄။ | ရင်းနှီးမြှုပ်နှံမှုသက်တမ်း | - ၅ နှစ် |
| ၅။ | တည်ဆောက်မှုကာလ | - ၁ နှစ် |
| ၆။ | စုစုပေါင်းမတည်ငွေရင်းပမာဏ | - US$ ၂၉၇.၃၉ သန်း |
| | **ထည့်ဝင်သည့်အမျိုးအစား** | **စုစုပေါင်း US$(သန်း)** |
| | ငွေသား | ၉.၉၅၀ |
| | စက်စွဲည်းတန်ဖိုး | ၂၈၇.၄၄၀ |
| | **စုစုပေါင်း** | **၂၉၇.၃၉၀** |
| ၇။ | ရောင်းချမည့်နည်းစနစ် | - ပြည်တွင်း ၁၀၀ % |
| ၈။ | ထုတ်လုပ်မှုနှင့်ရောင်းဈေးနှုန်း | |

| ထုတ်လုပ်မည့် လျှပ်စစ်ဓါတ်အား (ကီလိုဝပ်နာရီပေါင်း) | တစ်ယူနစ်ဈေးနှုန်း အခွန်မပါ(US$) | ရရှိမည့်ဝင်ငွေ US$(သန်း) |
|---|---|---|
| ၁,၅၃၇,၂၀၀,၀၀၀ | ၀.၁၁၆ | ၁၇၈.၆၀၈ |

| | | |
|---|---|---|
| ၉။ | ဝန်ထမ်းခန့်ထားမှု | ပြည်တွင်း(US$) ပြည်ပ (US$)<br>ဦးရေ ၁၅၉ ၄၉<br>အမြင့်ဆုံးလစာ ၃၄၈ ၂,၇၃၀<br>အနိမ့်ဆုံးလစာ ၁၅၉ ၂,၂၅၀ |
| ၁၀။ | ငွေကြေးအထောက်အထား | - ငွေကြေး အထောက်အထားအဖြစ် VPower Group International Holdings Limited အမည်ဖြင့် ဟောင်ကောင်ရှိ Standard Chartered Bank (Central Branch) တွင် ၂၀၁၉ ခုနှစ် စက်တင်ဘာလ ၂၇ ရက်နေ့ဖြင့် ဟောင်ကောင်ဒေါ်လာ ၆၆၃,၈၂၅.၀၄ ရှိကြောင်း တင်ပြထားပါသည်။ |
| ၁၁။ | CSR | - လူမှုရပ်ရွာ အကျိုးပြုမှုအစီအစဉ်အနေဖြင့် အသားတင် အမြတ်မှ ၂% သုံးစွဲသွားမည် ဖြစ်ကြောင်း တင်ပြထား ပါသည်။ |
| ၁၂။ | အခြားတင်ပြချက်များ | - လျှပ်စစ်နှင့်စွမ်းအင် ဝန်ကြီးဌာန၊ လျှပ်စစ်ဓာတ်အား ထုတ်လုပ်ရေးလုပ်ငန်းနှင့် တင်ဒါအောင်မြင်သော Consortium of CNTIC and VPower ကုမ္ပဏီတို့ အကြား ၂၀၁၉ ခုနှစ် စက်တင်ဘာလ ၆ ရက်နေ့ ရက်စွဲဖြင့် လက်မှတ်ရေးထိုးထား သော Letter of Acceptance- LOA အားတင်ပြထားပါသည်။<br>- CNTIC VPower YG2 Limited ၏ ကုမ္ပဏီ မှတ်ပုံတင် လက်မှတ်၊ Layout Plan, ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ချက် (Environmental Impact Assessment-EIA)အား လုပ်ထုံးလုပ် နည်းနှင့်အညီ ဆောင်ရွက်မည် ဖြစ်ကြောင်းနှင့် မီးဘေးကြိုတင် ကာကွယ်ရေးအစီ အစဉ် တို့အား တင်ပြထားပါသည်။<br>- လျှပ်စစ်နှင့်စွမ်းအင် ဝန်ကြီးဌာန၊ လျှပ်စစ်ဓါတ်အား ထုတ်လုပ်ရေးလုပ်ငန်းနှင့် Consortium of CNTIC and VPower တို့အကြား ချုပ်ဆိုမည့် လျှပ်စစ်ဓါတ် အား ဝယ်ယူရေးစာချုပ် (Power Purchase Agreement) (မူကြမ်း) အား တင်ပြထားပါသည်။<br>- CNTIC VPower YG2 Limited နှင့် Myanmar Business Consultant Group Limited တို့အကြား ချုပ်ဆိုမည့် Gas Terminal Development and Operation Agreement (မူကြမ်း)အား တင်ပြထား ပါသည်။ |






ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန

စာအမှတ်၊ MOEE-၂/ (၁၅)/ (င)/ (သီလဝါ)/(၂၀၃၁၄)/၂၀၁၉

ရက်စွဲ ၊ ၂၀၁၉ ခုနှစ် ၊ ဒီဇင်ဘာ လ ၁၃ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ CNTIC VPOWER YG2 LIMITED မှ သီလဝါတွင် အကောင်အထည်ဖော်ဆောင်ရွက်မည့် ဓာတ်အားပေးစက်ရုံ တည်ဆောက်ခြင်း လုပ်ငန်းအတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ခွင့်ပြုမိန့်လျှောက်ထားခြင်းအား ထောက်ခံတင်ပြခြင်းကိစ္စ

၁။ ၂၀၂၀ခုနှစ်၊ နွေရာသီတွင် တိုးတက်သုံးစွဲလာမည့် နိုင်ငံတော်၏လျှပ်စစ်ဓာတ်အား လိုအပ်ချက်ကို အချိန်မီဖြည့်ဆည်းပေးနိုင်ရန် ဓာတ်အားပေးစက်ရုံစီမံကိန်း (၅) ခုကို Independent Power Producer, Build Operate Own (IPP/ BOO) စနစ်ဖြင့် (၅) နှစ်စာ ဓာတ်အားဝယ်ယူရေးစာချုပ် (PPA) ချုပ်ဆို၍ ဝယ်ယူနိုင်ရန်အတွက် ပြည်ထောင်စုအစိုးရအဖွဲ့အစည်းအဝေး အမှတ်စဉ် (၁၂/၂၀၁၉) ၏ သဘောတူဆုံးဖြတ်ချက်ဖြင့် ၂၈-၆-၂၀၁၉ ရက်မှစ၍ တင်ဒါခေါ်ဆိုဆောင်ရွက်ခဲ့ပါသည်။

၂။ အထက်ပါစီမံကိန်း (၅) ခုအနက် သီလဝါ (၃၅၀) မဂ္ဂါဝပ် ဓာတ်အားပေးစက်ရုံစီမံကိန်းအတွက် တစ်ယူနစ် စုစုပေါင်းဈေးနှုန်း အနည်းဆုံးဖြင့်ဆောင်ရွက်မည့် The Consortium of CNTIC and VPower အား တင်ဒါအောင်မြင်သူအဖြစ်သတ်မှတ်၍ စီမံကိန်း စတင်အကောင်အထည်ဖော်ဆောင်ရွက်နိုင်ရေး Letter of Acceptance (LOA) ကို ၆-၉-၂၀၁၉ ရက်တွင် ထုတ်ပေးခဲ့ပြီး၊ အဆိုပါကုမ္ပဏီအဖွဲ့မှ စီမံကိန်းလုပ်ငန်းများ စတင်ဆောင်ရွက်လျက်ရှိပါသည်။

၃။ ထို့အပြင် The Consortium of CNTIC and VPower သည် China National Technical Import & Export Corporation, VPower Group Holdings Ltd. နှင့် VPower Holdings Ltd. ကုမ္ပဏီများဖြင့်ဖွဲ့စည်းထားပြီး၊ PPA စာချုပ်ချုပ်ဆိုနိုင်ရေးနှင့် ဓာတ်အားပေးစက်ရုံတည်ဆောက်ခြင်း၊ မောင်းနှင်ခြင်းများ ဆောင်ရွက်နိုင်ရန် ၃-၁၀-၂၀၁၉ ရက်တွင် CNTIC VPOWER YG2 LIMITED အမည်ဖြင့် Project Company တည်ထောင်ခဲ့ပါသည်။

၄။ ထို့နောက် အဆိုပါစီမံကိန်းအတွက် PPA စာချုပ်ချုပ်ဆိုနိုင်ရေး ပြည်ထောင်စုရှေ့နေချုပ်ရုံး၊ ပြည်ထောင်စုစာရင်းစစ်ချုပ်ရုံး၊ စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန၊ စီမံကိန်းနှင့်ဘဏ္ဍာရေးဝန်ကြီးဌာန၊ ရင်းနှီးမြှုပ်နှံမှုနှင့်နိုင်ငံခြားစီးပွားဆက်သွယ်ရေးဝန်ကြီးဌာန၊ မြန်မာနိုင်ငံတော်ဗဟို

ဘဏ်နှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်တို့သို့ ဌာနနှင့်ကုမ္ပဏီတို့အကြား နှစ်ဖက်သဘော တူညီပြီးဖြစ်သည့် စာချုပ်မူကြမ်းများပေးပို့၍သဘောထားမှတ်ချက်တောင်းခံထားပါသည်။

၅။ သို့ဖြစ်ပါ၍ CNTIC VPOWER YG2 LIMITED မှဓာတ်အားပေးစက်ရုံတည်ဆောက်ပြီး၊ မြန်မာနိုင်ငံအတွင်း လျှပ်စစ်ဓာတ်အားထုတ်လုပ်ရောင်းချရန်အတွက် လုပ်ထုံးလုပ်နည်းများနှင့်အညီ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ လျှောက်ထားမှုအပေါ် လိုအပ်သလိုကူညီဆောင်ရွက်ပေးနိုင် ပါရန် ညွှန်ကြားမေတ္တာရပ်ခံအပ်ပါသည်။

ပူးတွဲလျက်။ CNTIC VPOWER YG2 LIMITED ၏ သီလဝါဓာတ်အားပေးစက်ရုံစီမံကိန်း အတွက် အဆိုပြုတင်ပြချက် - (၁) အုပ်

ပြည်ထောင်စုဝန်ကြီး( )

(တင်မောင်ဦး၊ အမြဲတမ်းအတွင်းဝန်)

မိတ္တူကို

လျှပ်စစ်ဓာတ်အားထုတ်လုပ်ရေးလုပ်ငန်း

ရုံးလက်ခံ/မျှောစာတွဲ



ဝင်စာအမှတ် ၅၄-၁၇၁၄
ရက်စွဲ ၁၁-၇-၂၀၂၀

**MYANMA ECONOMIC HOLDINGS PUBLIC COMPANY LIMITED**

**မြန်မာ့စီးပွားရေးဦးပိုင်အများနှင့်သက်ဆိုင်သောကုမ္ပဏီလီမိတက်**

Tel : 397471, 397472, 397187
Fax : 95-01-397454

No. 189 / 191, Mahabandoola Road,
Botataung P.O. 11161
Yangon,
Republic of the Union of Myanmar.

Reference No. ၄ / ၁ / အခရ / ပိုင် ( ၂၂၁ / ၂၀၂၀) Date ၂၀၂၀ ခုနှစ်၊ ဇန်နဝါရီလ ၃၀ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့

အကြောင်းအရာ ။ **မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်က တောင်းခံထားသော သဘောတူညီချက်ပေးပို့ခြင်း**

ရည်ညွှန်းချက် ။ (၁) ဤကော်မရှင်၏ ၂၇-၁၂-၂၀၁၉ ရက်စွဲပါ စာအမှတ် မရက-၅(လ)/ ခ-၀၁၂/၂၀၁၉(၅၉၆)
(၂) မြန်မာ့စီးပွားရေးဦးပိုင်၏ ၁၃-၁-၂၀၂၀ ရက်စွဲပါ စာအမှတ် ၄/၁/အခရ/ပိုင်(၁၄၀/၂၀၂၀)

၁။ မြန်မာ့စီးပွားရေးဦးပိုင် အများနှင့်သက်ဆိုင်သောကုမ္ပဏီလီမိတက် ပိုင်ဆိုင်သည့် ရန်ကုန်တိုင်းဒေသကြီး၊ သီလဝါဆိပ်ကမ်း၊ အကွက်အမှတ် ၁၄ ၏ ဧရိယာတစ်စိတ်တစ်ပိုင်းတွင် IPP(BOO) စနစ်ဖြင့် LNG စွမ်းအင်သုံး ၃၅၀ မဂ္ဂါဝပ်ဓါတ်အားပေးစက်ရုံတည်ဆောက်ထုတ်လုပ်ရန်အတွက် ကော်မရှင်သို့ အဆိုပြုချက်တင်ပြလာကြောင်းနှင့် အဆိုပြုချက်နှင့်ပတ်သက်၍ ငှားရမ်းမည့်မြေနေရာတွင် အဆိုပြုလုပ်ငန်းဆောင်ရွက်ခြင်းအားခွင့်ပြုနိုင်ခြင်း ရှိ/မရှိ ၊ နှစ်ရှည်ငှားရမ်းမည့် Myanmar Business Consultant Group Ltd.(MBCG) နှင့်မြေငှားစာချုပ် ချုပ်ဆိုသွားရန် အစီအစဉ် ရှိ/မရှိ နှင့် ချုပ်ဆိုလျှင် MBCG ကထပ်ဆင့်ငှားရမ်းဆောင်ရွက်ခြင်းအား ခွင့်ပြု/ မပြု တို့ကို ရည်ညွှန်း(၁)ဖြင့် သဘောထားတောင်းခံလာသောကြောင့် မြန်မာ့စီးပွားရေးဦးပိုင်သည် ရည်ညွှန်း(၂)ဖြင့် အကြောင်းပြန်ကြားတင်ပြခဲ့ပြီး ဖြစ်ပါသည်။

၂။ မြန်မာ့စီးပွားရေးဦးပိုင်နှင့် MBCG တို့ချုပ်ဆိုမည့် BOT စနစ်ဖြင့် မြေငှားစာချုပ်အပေါ် ၁၅-၁-၂၀၂၀ ရက်နေ့တွင် တံဆိပ်ခေါင်းခွန် ကျပ် ၃၄.၇၄ သန်းကျော်

ကပ်နှံ့ထမ်းဆောင်ပြီး ၁၆-၁-၂၀၂၀ ရက်နေ့တွင် လက်မှတ်ရေးထိုးချုပ်ဆိုခဲ့ပြီး ဖြစ်ပါသည်။

၃။ ချုပ်ဆိုခဲ့သည့် BOT မြေငှားစာချုပ်၏ စာမျက်နှာ ၂ နှင့် စာမျက်နှာ ၄ အပိုဒ် ၆ တို့တွင် ရင်းနှီးမြှုပ်နှံရန်သဘောတူညီထားသည့် လုပ်ငန်းများကို ပြည့်စုံစွာဖော်ပြထားပြီး ဤသို့ရင်းနှီးမြှုပ်နှံရာ၌ အငှားချထားခြင်းခံရသူ၏အခွင့်အရေးနှင့်တာဝန်များကိုလည်း စာမျက်နှာ ၈ အပိုဒ် ၁၆ တွင် ဖော်ပြထားပါသည်။

၄။ သို့ပါ၍ မြန်မာ့စီးပွားရေးဦးပိုင်ထံမှအငှားချထားခြင်းခံရသည့် MBCG အနေဖြင့် သဘောတူညီချက်၏အပိုဒ် ၁၆(ဃ)ပါ စည်းကမ်းချက်အား လိုက်နာဆောင်ရွက်ပါက မြေပိုင်ရှင်အနေဖြင့် ကန့်ကွက်ရန်မရှိပါကြောင်းနှင့် ချုပ်ဆိုပြီးသည့် သဘောတူညီချက်အား သိရှိနိုင်ပါရန် ပူးတွဲ၍တင်ပြအပ်ပါသည်။

(signature)

မန်နေဂျင်းဒါရိုက်တာ(ကိုယ်စား)
မင်းဇော်၊ ဌာနကြီးမှူး
အထွေထွေအုပ်ချုပ်ရေးရာဌာနကြီး

မိတ္တူကို
- ရုံးလက်ခံ/မျှော

နောက်ဆက်တွဲ- ဂ

| | |
|---|---|
| ဝင်စာအမှတ် | ၃၄-၇၆၅၆ |
| ရက်စွဲ | ၂၇.၁၂.၁၉ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

**လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန**

လျှပ်စစ်ဓာတ်အားထုတ်လုပ်ရေးလုပ်ငန်း

စာအမှတ်၊ ၅၂၈ /ဥမရ-ပစအ (သီလဝါ)/၂၀၁၉

ရက်စွဲ ၊ ၂၀၁၉ ခုနှစ်၊ ဒီဇင်ဘာလ ၂၄ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **ရန်ကုန်တိုင်းဒေသကြီး၊ သီလဝါတွင် အကောင်အထည်ဖော် ဆောင်ရွက်မည့် ဓာတ်အားပေးစက်ရုံအတွက် CNTIC VPOWER YG2 LIMITED မှ ဓာတ်အားပေးစက်များနှင့်ဆက်စပ်ပစ္စည်းများ အချိန်မီတင်သွင်းနိုင်ရန်အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ကြိုတင်ခွင့်ပြုမိန့်ထုတ်ပေးနိုင်ပါရန် ထောက်ခံတင်ပြခြင်း**

ရည်ညွှန်းချက် ။ လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန၏ (၁၃-၁၂-၂၀၁၉)ရက်စွဲပါ စာအမှတ်၊ MOEE - ၂ / (၁၅) / (င) (သီလဝါ) / (၂၀၃၁၄) / ၂၀၁၉

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ CNTIC VPOWER YG2 LIMITED မှ ဓာတ်အားပေးစက်ရုံ တည်ဆောက်ပြီး မြန်မာနိုင်ငံအတွင်း လျှပ်စစ်ဓာတ်အားထုတ်လုပ်ရောင်းချရန်အတွက် လုပ်ထုံးလုပ်နည်းများနှင့်အညီ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ လျှောက်ထားမှုအပေါ် လိုအပ်သလို ကူညီဆောင်ရွက်ပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံခဲ့ပါသည်။

၂။ ထို့အပြင် အဆိုပါဓာတ်အားပေးစက်ရုံအတွက် လျှပ်စစ်ဓာတ်အားထုတ်လုပ်ရေးလုပ်ငန်းနှင့် ကုမ္ပဏီတို့အကြား ဓာတ်အားဝယ်ယူရေးသဘောတူစာချုပ် ချုပ်ဆိုနိုင်ရေး ဌာနနှင့် ကုမ္ပဏီတို့အကြား နှစ်ဖက်သဘောတူညီပြီးဖြစ်သည့် စာချုပ်မူကြမ်းများအား ပြည်ထောင်စုရှေ့နေချုပ်ရုံး၊ ပြည်ထောင်စုစာရင်းစစ်ချုပ်ရုံး၊ စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန၊ စီမံကိန်းနှင့်ဘဏ္ဍာရေးဝန်ကြီးဌာန၊ ရင်းနှီးမြှုပ်နှံမှုနှင့်နိုင်ငံခြားစီးပွားဆက်သွယ်ရေးဝန်ကြီးဌာန၊ မြန်မာနိုင်ငံတော်ဗဟိုဘဏ်နှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်များသို့ ပေးပို့၍ သဘောထားမှတ်ချက် တောင်းခံခဲ့ပါသည်။(နောက်ဆက်တွဲ-က)

၃။ အဆိုပါ စာချုပ်မူကြမ်းအပေါ် ပြည်ထောင်စုရှေ့နေချုပ်ရုံး၊ စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန၊ စီမံကိန်းနှင့်ဘဏ္ဍာရေးဝန်ကြီးဌာန၊ ရင်းနှီးမြှုပ်နှံမှုနှင့်နိုင်ငံခြားစီးပွားဆက်သွယ်ရေးဝန်ကြီးဌာန၊ မြန်မာနိုင်ငံတော်ဗဟိုဘဏ်နှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်များမှ(နောက်ဆက်တွဲ-ခ)ပါအတိုင်း သဘောထားမှတ်ချက်များ ပြန်ကြားလာပါသည်။ ယခုအခါ အဆိုပါသဘောထားမှတ်ချက်များနှင့်အညီ ကုမ္ပဏီနှင့် ညှိနှိုင်းဆွေးနွေး သဘောတူညီမှု ရရှိပြီးသော စာချုပ်မူကြမ်းအား သက်ဆိုင်ရာဌာနများသို့ ဒုတိယအကြိမ် ပေးပို့၍ သဘောထားမှတ်ချက်တောင်းခံနိုင်ရေး ဆောင်ရွက်လျက်ရှိပါသည်။

၄။ သက်ဆိုင်ရာဌာနများ၏ သဘောထားမှတ်ချက်များနှင့်အညီ စာချုပ်အား ပြန်လည်ပြင်ဆင်ပြီးပါက ပြည်ထောင်စုအစိုးရအဖွဲ့၊ စီးပွားရေးရာကော်မတီနှင့် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် ပြည်ထောင်စုအစိုးရအဖွဲ့သို့ ဆက်လက်တင်ပြ၍ လက်မှတ်ရေးထိုး ချုပ်ဆိုသွားမည်ဖြစ်ပါသည်။

၅။ ထို့အပြင် ဤဝန်ကြီးဌာနမှ CNTIC VPOWER YG2 LIMITED သို့ Letter of Acceptance (LOA)ထုတ်ပေးခဲ့သော ၆-၉-၂၀၁၉ ရက်နေ့မှစ၍ ကုမ္ပဏီသည် စီမံကိန်းလုပ်ငန်းများကို စတင်အကောင်အထည်ဖော်ဆောင်ရွက်ခဲ့ရာ လက်ရှိတွင်စီမံကိန်းမြေနေရာအား ရှင်းလင်းပြီးစီးပြီဖြစ်၍ ဓာတ်အားပေးစက်များ တည်ဆောက်နိုင်ရန် Civil Works များ ဆောင်ရွက်လျက်ရှိပါသည်။ ထို့အပြင် စီမံကိန်းတွင် တပ်ဆင်အသုံးပြုမည့် ပူးတွဲစာရင်းပါ ဓာတ်အားပေးစက်များနှင့်ဆက်စပ်ပစ္စည်းများမှာ မြန်မာနိုင်ငံသို့ တင်သွင်းရန် အဆင်သင့်ဖြစ်နေပြီး မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ကြိုတင်ခွင့်ပြုမိန့်ထုတ်ပေးရရှိပါက မြန်မာနိုင်ငံသို့ အလျင်အမြန်ပို့ဆောင်၍ စီမံကိန်းတွင် တပ်ဆင်တည်ဆောက်သွားမည်ဖြစ်ပါသည်။

၆။ သို့ဖြစ်ပါ၍ ရန်ကုန်တိုင်းဒေသကြီး၊ သီလဝါတွင် တည်ဆောက်မည့် ၃၅၀ မဂ္ဂါဝပ် ဓာတ်အားပေးစက်ရုံအတွက် လုပ်ငန်းဆောက်ရွက်မည့် CNTIC VPOWER YG2 LIMITED မှ ဓာတ်အားပေးစက်များနှင့်ဆက်စပ်ပစ္စည်းများ အချိန်မီတင်သွင်းနိုင်ရန်အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ကြိုတင်ခွင့်ပြုမိန့်ထုတ်ပေးနိုင်ရေး လိုအပ်သလိုကူညီဆောင်ရွက်ပေးနိုင်ပါရန် ညှိနှိုင်းမေတ္တာရပ်ခံအပ်ပါသည်။

ပူးတွဲ။ သီလဝါ ဓာတ်အားပေးစက်ရုံအတွက် တင်သွင်းမည့် ပစ္စည်းစာရင်း။

23.12.2019

သန်းနိုင်ဦး

ဦးဆောင်ညွှန်ကြားရေးမှူး

မိတ္တူကို -

ရုံးလက်ခံ/မျှော